၄။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် တင်ပြခြင်းနှင့် စပ်လျဉ်း၍ လုပ်ငန်းပိုင်းဆိုင်ရာမူများ နှင့် လုပ်ငန်းအခြေအနေများကို စိစစ်သုံးသပ်၍ (၈-၃-၂၀၁၃) နေ့အရောက် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါ အဆိုပြုလွှာတစ်စောင် ပူးတွဲပေးပို့ ညွှန်ကြားအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ ညွှန်ကြားရေးမှူးချုပ်)

ကြေးတိုင်နှင့် မြေစာရင်းဦးစီးဌာန
လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန
မိတ္တူ
ရုံးလက်ခံ/မျှောစာတွဲ

H:\ASIA Agriculture\ASIA Agriculture-ဂ (Comment).doc

အထွေထွေ အရပ်ရပ် -၁၆
(ရုံးတွင်း စာအကျဉ်းချုပ် (သို့မဟုတ်) စာကြမ်းရေးရန်အတွက်)

ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ ဩဂုတ်လ ရက်

အကြောင်းအရာ။ **Asia Agriculture Co.,Ltd. မှ စိုက်ပျိုးရေးနှင့် သက်ဆိုင်သော လယ်ယာသီးနှံများအား စိုက်ပျိုးခြင်း၊ ထုတ်လုပ်ခြင်း၊ ရိတ်သိမ်းခြင်း၊ တာရှည်ခံအောင်ပြုလုပ်ခြင်း၊ ထုတ်ပိုးခြင်း ၊ ကြိတ်ခွဲခြင်းနှင့် စိုက်ပျိုးရေး ဆိုင်ရာထုတ်ကုန်ပစ္စည်းများ ထုတ်လုပ်မည့် လုပ်ငန်းများ ဆောင်ရွက်ခွင့်ပြု ပါရန် အဆိုပြုတင်ပြခြင်း**

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့် စပ်လျဉ်း၍ Asia Agriculture Co.,Ltd. မှ စိုက်ပျိုးရေးနှင့် သက်ဆိုင်သော လယ်ယာသီးနှံများအား စိုက်ပျိုးခြင်း၊ ထုတ်လုပ်ခြင်း၊ ရိတ်သိမ်းခြင်း၊ တာရှည်ခံအောင်ပြုလုပ်ခြင်း၊ ထုတ်ပိုးခြင်း ၊ ကြိတ်ခွဲခြင်းနှင့် စိုက်ပျိုးရေး ဆိုင်ရာထုတ်ကုန်ပစ္စည်းများ ထုတ်လုပ်မည့် လုပ်ငန်းများ ဆောင်ရွက်ခွင့်ပြု ပါရန် အဆိုပြုတင်ပြခြင်းကိစ္စအား လိုအပ်သည်များ ဖြည့်စွက်၍ ပြန်လည်တင်ပြပေးပါရန် ကုမ္ပဏီသို့ အကြောင်းကြားမည့် စာချွေအား တင်ပြအပ်ပါသည်။

၁၁.၈.၁၂

ဒုတိယညွှန်ကြားရေးမှူး

22/8

E:\Ns\N_- .docx

အထွေထွေ အရပ်ရပ် -၁၆
(ရုံးတွင်း စာအကျဉ်းချုပ် (သို့မဟုတ်) စာကြမ်းရေးရန်အတွ

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံ**
**တည်ထောင်၍ မြန်မာနိုင်ငံ**
**ထောင်လုပ်ကိုင်ခြင်း၊ လ**
**အောင်ပြုလုပ်ခြင်းလုပ်ငန်း**
**ခြင်းကိစ္စ**

၁။ အထက်အကြောင်းအရာပါကိစ္စနှင့် စပ်လျဉ်း၍ (၂၀-၂-၂၀၁၃) ရက်နေ့တွင် ကျင်းပပြုလုပ်မည့် ရင်းနှီးမြှုပ်နှံမှုသတင်းအချက်အလက် စုဆောင်းရှာဖွေမြှင့်တင်ရေးအဖွဲ့ ၏ ၈/၂၀၁၃ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြမည့် အမှာစာ မူကြမ်းအား ပြုစုတင်ပြအပ်ပါသည်။

၁၈.၂.၁၃
အေးသီတာဝင်း

**ဒုတိယညွှန်ကြားရေးမှူး**

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
ရုံးအမှတ်(၃၂)၊ နေပြည်တော်

Myanmar Investment Commission

ဖက်(စ်) ၉၅-၆၇-၄၀၆၃၃၃
တယ်လီဖုန်း-၀၆၇-၄၀၆၃၃၄၊ ၄၀၆၀၇၅

စာအမှတ်၊ရကက- ၆(ခ)/န-၇၈၃/၂၀၁၃ ( )
ရက်စွဲ၊ ၂၀၁၃ ခုနှစ် ဖေဖော်ဝါရီလ ရက်

သို့

**ပြည်ထောင်စုဝန်ကြီးရုံး**
**ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန**

အကြောင်းအရာ။ **နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် UPP Power (Myanmar) Ltd. အမည်ဖြင့် ရန်ကုန်မြို့ ဓာတ်အားပေးစက်ရုံဝင်းအတွင်းတွင် ၅၀ မဂ္ဂါဝပ် သဘာဝဓာတ်ငွေ့သုံး ဓာတ်အားပေးစက်ရုံ အသစ်တည်ထောင်၍ BOT စနစ်ဖြင့် လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခွင့်ပြုပါရန် လျှပ်စစ်ဝန်ကြီးဌာနမှ အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

ရည်ညွှန်းချက် ။ လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ (၈-၂-၂၀၁၃) ရက်စွဲပါ စာအမှတ်၊ ၁ လစ (MIC)/ (၁၃၃၂)/၂၀၁၃

၁။ လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ လျှပ်စစ်စွမ်းအားဦးစီးဌာန၊ စင်္ကာပူနိုင်ငံ UPP Holdings Pte, Ltd. နှင့် မြန်မာနိုင်ငံ Myan Shwe Pyi Tractors Ltd. တို့သည် ရန်ကုန်မြို့ ဓာတ်အားပေးစက်ရုံဝင်းအတွင်းတွင် UPP Power (Myanmar) Ltd. အမည်ဖြင့် ၅၀ မဂ္ဂါဝပ် သဘာဝဓာတ်ငွေ့သုံး ဓာတ်အားပေးစက်ရုံအသစ်တည်ဆောက်၍ BOT စနစ်ဖြင့် လျှပ်စစ်ဓာတ်အားထုတ်လုပ်ရောင်းချခွင့်ပြုပါရန် လျှပ်စစ်စွမ်းအားဝန်ကြီးဌာနမှ ရည်ညွှန်းပါစာဖြင့် ကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု နည်းဥပဒေများအခန်း(၆)၊ အပိုဒ် ၄၂နှင့် ၄၃ ပါ ပြဋ္ဌာန်းချက်များနှင့် အညီအဆိုပြုချက်ကိုစိစစ်ရာတွင် သက်ဆိုင်ရာအဖွဲ့အစည်းများ၏ သဘောထားများကိုတောင်းခံရယူရန် လိုအပ်ပါသည်။

၃။ UPP Power (Myanmar) Ltd. နှင့် ဆက်သွယ်ရန်လိပ်စာမှာ ဒေါ်ရီရီထွေး၊ ၀၉- ၈၆၃၃၇၃၆ ဖြစ်ပါသည်။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

**ရင်းနှီးမြှုပ်နှံမှုသတင်းအချက်အလက်စုဆောင်းရှာဖွေမြင့်တင်ရေးအဖွဲ့**

ရုံးအမှတ်(၃၂)၊ နေပြည်တော်

ဖက်(စ်) ၉၅-၆၇-၄၀၆၃၃၃ | တယ်လီဖုန်း-၀၆၇-၄၀၆၃၃၄၊ ၄၀၆၀၇၅

စာအမှတ်၊ရက- ၆(ခ)/န-၇၈၃/၂၀၁၃ ( )

ရက်စွဲ၊ ၂၀၁၃ ခုနှစ် ဖေဖော်ဝါရီလ ရက်

အကြောင်းအရာ။ **နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် UPP Power (Myanmar) Ltd. အမည်ဖြင့် ရန်ကုန်မြို့ ဓာတ်အားပေးစက်ရုံဝင်းအတွင်းတွင် ၅၀ မဂ္ဂါဝပ် သဘာဝဓာတ်ငွေ့သုံး ဓာတ်အားပေးစက်ရုံ အသစ်တည်ထောင်၍ BOT စနစ်ဖြင့် လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခွင့်ပြုပါရန် လျှပ်စစ် ဝန်ကြီးဌာနမှ အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

ရည်ညွှန်းချက် ။ လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ (၈-၂-၂၀၁၃) ရက်စွဲပါ စာအမှတ်၊ ၁ လစ (MIC)/ (၁၃၃၂)/၂၀၁၃

၁။ လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ လျှပ်စစ်စွမ်းအားဦးစီးဌာန၊ စင်္ကာပူနိုင်ငံ UPP Holdings Pte, Ltd.နှင့် မြန်မာနိုင်ငံ Myan Shwe Pyi Tractors Ltd. တို့သည် ရန်ကုန်မြို့ ဓာတ်အားပေးစက်ရုံဝင်းအတွင်းတွင် UPP Power (Myanmar) Ltd. အမည်ဖြင့် ၅၀ မဂ္ဂါဝပ် သဘာဝဓာတ်ငွေ့သုံး ဓာတ်အားပေးစက်ရုံ အသစ်တည်ဆောက်၍ BOT စနစ်ဖြင့် လျှပ်စစ်ဓာတ်အားထုတ်လုပ်ရောင်းချခွင့်ပြုပါရန် လျှပ်စစ်စွမ်းအားဝန်ကြီးဌာနမှ ရည်ညွှန်းပါစာဖြင့် ကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း( )၊ အပိုဒ် ( )ပါ ပြဋ္ဌာန်းချက်နှင့် အညီအဆိုပြုချက်ကို စိစစ်ရာတွင် သက်ဆိုင်ရာအဖွဲ့အစည်းများ၏ သဘောထားများကို တောင်းခံရယူရန် လိုအပ်ပါသည်။

၃။ သို့ဖြစ်ပါ၍ အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ စီးပွားရေးဆိုင်ရာတွက်ချက်မှုများ အပေါ် စိစစ်သုံးသပ်၍ (၂၇-၁-၂၀၁၃) နေ့ နောက်ဆုံးထား၍ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းစာပါ အဆိုပြုလွှာတစ်စောင် ပူးတွဲပေးပို့ ညှိနှိုင်းအပ်ပါသည်။

အတွင်းရေးမှူး(ကိုယ်စား)

(အောင်နိုင်ဦး၊ ညွှန်ကြားရေးမှူးချုပ်)

**စီမံကိန်းစိစစ်ရေးနှင့် တိုးတက်မှုအစီရင်ခံရေးဦးစီးဌာန**

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

နိုင်ငံတော်သမ္မတရုံး

**အမိန့်ကြော်ငြာစာ**

အမှတ်၊ ၈၉ / ၂၀၁၁

၁၃၇၃ ခုနှစ်၊ သီတင်းကျွတ်လဆန်း ၁၄ ရက်

( ၂၀၁၁ ခုနှစ်၊ အောက်တိုဘာလ ၁၁ ရက် )

**မြန်မာအထူးစီးပွားရေးဇုန်ဆိုင်ရာ ဗဟိုအဖွဲ့တွင် အဖွဲ့ဝင်ဖြည့်စွက် ဖွဲ့စည်းခြင်း**

နိုင်ငံတော်သမ္မတရုံး၏ ၂၀၁၁ ခုနှစ်၊ ဧပြီလ ၂၀ ရက်နေ့စွဲပါ အမိန့်ကြော်ငြာစာအမှ (၄၁/၂၀၁၁) ဖြင့် ဖွဲ့စည်းခဲ့သော " မြန်မာအထူးစီးပွားရေးဇုန်ဆိုင်ရာ ဗဟိုအဖွဲ့ "တွင် အောက်ပါပုဂ္ဂိုလ်များအ အဖွဲ့ဝင်များအဖြစ် ဖြည့်စွက်ဖွဲ့စည်းလိုက်ပါသည်-

(၁) ပြည်ထောင်စုဝန်ကြီး အဖွဲ့ဝင်
ပြည်ထဲရေးဝန်ကြီးဌာန

(၂) ဥက္ကဋ္ဌ အဖွဲ့ဝင်
စီမံခန့်ခွဲမှုကော်မတီ
[illegible]

( ပုံ ) သိန်းစိန်
နိုင်ငံတော်သမ္မတ
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

စာအမှတ်၊ ၁၀၅ ( ၁ ) / ၈ / သမ္မတရုံး
ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ အောက်တိုဘာလ ၁၁ ရက်

**ဖြန့်ဝေခြင်း**

မြန်မာအထူးစီးပွားရေးဇုန်ဆိုင်ရာဗဟိုအဖွဲ့နှင့် ဗဟိုလုပ်ငန်းအဖွဲ့ အဖွဲ့ဝင်များအားလုံး
သမ္မတဦးစီးရုံး
ဒုတိယသမ္မတဦးစီးရုံးများ
ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
လွှတ်တော်ရုံး

(ခ) နည်းဥပဒေခွဲ(က) အရ လုပ်ငန်းစာတွဲဖွင့်လှစ်ပြီးနောက် မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းမှ လယ်ယာမြေအဖြစ်သို့ ပြောင်းလဲသတ်မှတ်ပေးရန် လျှောက်ထားသူကို ဦးစီးဌာန ရငွေစာရင်းသို့မှတ်ပုံတင်ကြေး ပေးသွင်းစေ၍ လယ်ယာမြေလုပ်ပိုင်ခွင့် ရရှိသူများ မှတ်ပုံတင်စာရင်း (ပုံစံ ၅)တွင် မှတ်တမ်းတင်ပြီး မြို့နယ် လယ်ယာမြေ စီမံခန့်ခွဲမှုအဖွဲ့သို့ တင်ပြရမည်။

၄၅။ မြို့နယ်လယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့သည် နည်းဥပဒေ ၄၄၊ နည်းဥပဒေခွဲ(ခ) အရ တင်ပြချက်ကို လက်ခံရရှိသည့်အခါ မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းမှ လယ်ယာမြေအဖြစ်သို့ ပြောင်းလဲသတ်မှတ်ပြီး လျှောက်ထားသူအား လယ်ယာမြေလုပ်ပိုင်ခွင့်ပြုလက်မှတ် (ပုံစံ ၇) ထုတ်ပေးရမည်။

၄၆။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုထားသော ရင်းနှီးမြှုပ်နှံသူများ သို့မဟုတ် ယင်းရင်းနှီးမြှုပ်နှံသူများပါဝင်သည့်အဖွဲ့အစည်းက လုပ်ပိုင်ခွင့်၊ အသုံးပြုခွင့် ရရှိထားသော မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းတွင် စိုက်ပျိုးထုတ်လုပ်မှု တည်ငြိမ်သည့်အခါ ဗဟိုလယ်ယာမြေ စီမံခန့်ခွဲမှုအဖွဲ့သည် အဆိုပါ မြေလွတ်၊ မြေလပ်နှင့်မြေရိုင်းကို ပြည်ထောင်စုအစိုးရအဖွဲ့၏ ခွင့်ပြုချက်ဖြင့် လယ်ယာမြေအဖြစ်ပြောင်းလဲ သတ်မှတ်နိုင်သည်။

## အခန်း(၅)

## လယ်ယာမြေလုပ်ပိုင်ခွင့်ကို ငှားရမ်းခြင်းနှင့် ပေါင်နှံခြင်း

၄၇။ လယ်ယာမြေလုပ်ပိုင်ခွင့်ကို ငှားရမ်းခြင်းပြုလုပ်ရာတွင်-

(က) ငှားရမ်းခြင်းပြုသောလယ်ယာမြေကို စိုက်ပျိုးရေးလုပ်ငန်း အတွက်သာ အသုံးပြုရမည်။

(ခ) ငှားရမ်းသူနှင့် ငှားယူသူတို့သည် လယ်ယာမြေတည်ရှိသည့် သက်ဆိုင်ရာ ရပ်ကွက် သို့မဟုတ် ကျေးရွာအုပ်စု လယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့ ရှေ့မှောက်၌ တံဆိပ်ခေါင်းခွန် ထမ်းဆောင်၍ လယ်ယာမြေ လုပ်ပိုင်ခွင့် ငှားရမ်းသည့်စာချုပ်ကို ချုပ်ဆိုရမည်။

(ဂ) နည်းဥပဒေခွဲ(ခ) အရ ချုပ်ဆိုသောစာချုပ်၌ ငှားရမ်းသည့်ကာလကို သတ်မှတ် ဖော်ပြရမည်။

(ဃ) နည်းဥပဒေခွဲ(ခ) အရ ချုပ်ဆိုသောစာချုပ်ကို စာချုပ် ချုပ်ဆိုသည့်နေ့မှ ရက်ပေါင်း (၁၂၀) အတွင်း သက်ဆိုင်ရာ မြို့နယ်ဦးစီးဌာနရုံးတွင် မှတ်ပုံတင်ရမည်။

၄၈။ လယ်ယာမြေလုပ်ပိုင်ခွင့်ကို ပေါင်နှံခြင်းပြုလုပ်ရာတွင်-

(က) လယ်ယာမြေလုပ်ပိုင်ခွင့်ရရှိသူသည်ယင်း၏လယ်ယာမြေပေါ်၌ စိုက်ပျိုးထုတ်လုပ် နိုင်ရန် အရင်းအနှီးရရှိရေးအတွက်သာ ပေါင်နှံရမည်။

(ခ) အစိုးရဘဏ် သို့မဟုတ် ဤကိစ္စအလို့ငှာ အစိုးရက သတ်မှတ်သော ဘဏ် တစ်ခုခု၌သာ လယ်ယာမြေ လုပ်ပိုင်ခွင့်ရရှိသူက လယ်ယာမြေ လုပ်ပိုင်ခွင့်ပြု လက်မှတ် မူရင်းကို ပေးအပ်၍ ပေါင်နှံရမည်။

(ဂ) ပေါင်နှံသူနှင့် ပေါင်နှံခြင်းကို လက်ခံသည့်ဘဏ်မှ တာဝန်ရှိသူတို့သည် လယ်ယာမြေ တည်ရှိသော သက်ဆိုင်ရာရပ်ကွက် သို့မဟုတ် ကျေးရွာအုပ်စု လယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့ ရှေ့မှောက်၌ တံဆိပ်ခေါင်းခွန် ထမ်းဆောင်၍ လယ်ယာမြေလုပ်ပိုင်ခွင့်ပေါင်နှံသည့် စာချုပ်ကို ချုပ်ဆိုရမည်။

(ဃ) နည်းဥပဒေခွဲ(ဂ) အရ ချုပ်ဆိုသောစာချုပ်၌ ရွေးနုတ်ရမည့်ကာလကို သတ်မှတ် ဖော်ပြရမည်။

(င) နည်းဥပဒေခွဲ(ဂ) အရ ချုပ်ဆိုသောစာချုပ်ကို စာချုပ် ချုပ်ဆိုသည့် နေ့မှ ရက်ပေါင်း (၁၂၀) အတွင်း သက်ဆိုင်ရာ မြို့နယ်ဦးစီးဌာနရုံးတွင် မှတ်ပုံတင်ရမည်။

(စ) ပေါင်နှံသူသည် ပေါင်နှံသည့်ကာလအတွင်း လယ်ယာမြေတွင် ဆက်လက်၍ စိုက်ပျိုး လုပ်ကိုင်ခွင့်ရှိသည်။

၄၉။ နည်းဥပဒေ ၄၈၊ နည်းဥပဒေခွဲ(ဃ) အရသတ်မှတ်သည့် ရွေးနုတ်ရမည့်ကာလ အတွင်း ရွေးနုတ်ခြင်း မပြုလျှင် ပေါင်နှံခြင်းကိုလက်ခံသည့် အစိုးရဘဏ် သို့မဟုတ် ဤကိစ္စအလို့ငှာ အစိုးရက သတ်မှတ်သော ဘဏ်သည် လယ်ယာမြေ လုပ်ပိုင်ခွင့်ကို ဘဏ်၏လုပ်ထုံး လုပ်နည်း များနှင့်အညီ စီမံခန့်ခွဲနိုင်သည်။

၅၀။ နည်းဥပဒေ ၄၉ အရ လယ်ယာမြေလုပ်ပိုင်ခွင့်ကို စီမံခန့်ခွဲပိုင်ခွင့်ရှိသော အစိုးရဘဏ် သို့မဟုတ် ဤကိစ္စအလို့ငှာ အစိုးရက သတ်မှတ်သော ဘဏ်သည် လည်းကောင်း၊ ယင်းဘဏ် တစ်ခုခုမှ လယ်ယာမြေလုပ်ပိုင်ခွင့်ကို လွှဲပြောင်းရရှိသူသည် လည်းကောင်း လယ်ယာမြေ လုပ်ပိုင်ခွင့်ရရှိသူ အမည်ပြောင်းလဲပေးရန် နည်းဥပဒေ ၂၅ အရ မြို့နယ်ဦးစီးဌာနရုံးသို့ လျှောက်ထားနိုင်သည်။

၅၁။ နည်းဥပဒေ ၅၀ အရ လျှောက်ထားချက်နှင့်စပ်လျဉ်း၍ မြို့နယ်ဦးစီးဌာနရုံးနှင့် မြို့နယ် လယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့တို့သည် နည်းဥပဒေ၂၆၊ ၂၇ နှင့်၂၈ တို့ပါ သတ်မှတ်ချက်များ နှင့်အညီ ဆောင်ရွက်ရမည်။

## အခန်း(၆)

## ကြီးကြပ်ခြင်းနှင့်ပံ့ပိုးဆောင်ရွက်ခြင်း

၅၂။ ရပ်ကွက် သို့မဟုတ် ကျေးရွာအုပ်စု လယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့သည် ရပ်ကွက် သို့မဟုတ် ကျေးရွာ အုပ်စုအတွင်းရှိ လယ်ယာမြေများအတွက် လယ်ယာမြေ လုပ်ပိုင်ခွင့် ရရှိသူနှင့် လုပ်ပိုင်ခွင့်ပြုသည့် လယ်ယာမြေများအား မှတ်တမ်းပြုစုထားရှိရန် ရပ်ကွက် သို့မဟုတ် ကျေးရွာအုပ်စုအလိုက် လယ်ယာမြေ လုပ်ပိုင်ခွင့် မှတ်ပုံတင်စာရင်း(ပုံစံ ၁၁) ကို ဖွင့်လှစ်ထား ရှိရမည်။

၅၃။ ရပ်ကွက် သို့မဟုတ် ကျေးရွာအုပ်စု လယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့သည်-

(က) လယ်ယာမြေဥပဒေ အခန်း(၄)အရ လယ်ယာမြေလုပ်ပိုင်ခွင့် ရရှိသူများ လိုက်နာရမည့် စည်းကမ်းချက်များကို လိုက်နာခြင်း ရှိ မရှိ ကြီးကြပ် ရမည်။

(ခ) လယ်ယာမြေလုပ်ပိုင်ခွင့် အငြင်းပွားမှုနှင့် စပ်လျဉ်း၍ချမှတ်သည့် လယ်ယာမြေ စီမံခန့်ခွဲမှုအဖွဲ့၏ ဆုံးဖြတ်ချက်ကို အယူခံဝင်ရောက် နေစဉ်ကာလအတွင်း ယင်း ဆုံးဖြတ်ချက်အား လိုက်နာဆောင်ရွက်စေရန် ကြီးကြပ်ရမည်။

(ဂ) ခိုင်လုံသောအကြောင်းပြချက် မရှိဘဲ လယ်ယာမြေကို လုပ်ထားခြင်း မရှိစေရန် ကြီးကြပ် ရမည်။

၅၄။ ရပ်ကွက် သို့မဟုတ် ကျေးရွာအုပ်စု လယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့သည် နည်းဥပဒေ ၅၃၊ နည်းဥပဒေခွဲ (က) အရ ကြီးကြပ်ရာတွင်-

(က) လယ်ယာမြေလုပ်ပိုင်ခွင့်ရရှိသူက လယ်ယာမြေဥပဒေပုဒ်မ ၁၂ ပါ စည်းကမ်းချက် အားလုံးကိုဖြစ်စေ၊ စည်းကမ်းချက် တစ်ခုခုကို ဖြစ်စေ လိုက်နာရန်ပျက်ကွက်ကြောင်း တွေ့ရှိလျှင် လယ်ယာမြေဥပဒေပုဒ်မ ၁၉ အရ ဝန်ကြီးဌာနက ဤကိစ္စအလို့ငှာ ခန့်အပ်သည့် လယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့ သို့ အဆင့်ဆင့်တင်ပြရမည်။

(ခ) လယ်ယာမြေလုပ်ပိုင်ခွင့် ရရှိသူက လယ်ယာမြေဥပဒေ ပုဒ်မ ၁၄ ပါ တားမြစ်ချက်ကို ဖောက်ဖျက်ကြောင်း တွေ့ရှိလျှင် ပုဒ်မ ၃၇ အရ အရေးယူနိုင်ရန် မြို့နယ်လယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့သို့ ချက်ချင်း တင်ပြရမည်။

၅၅။ [illegible] လုပ်ပိုင်ခွင့်အားလုံးကိုဖြစ်စေ၊ တစ်စိတ်တစ်ပိုင်းကိုဖြစ်စေ နိုင်ငံတော်အစိုးရ၏ ခွင့်ပြုချက်မရရှိဘဲ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားသားပါဝင်သည့် အဖွဲ့အစည်းသို့ ရောင်းချခြင်း၊ ပေါင်နှံခြင်း၊ ငှားရမ်းခြင်း၊ လဲလှယ်ခြင်း သို့မဟုတ် ပေးကမ်းခြင်း မပြုနိုင်ရေး အတွက် ကြီးကြပ်ရမည်။

၅၆။ လယ်ယာမြေဥပဒေ ပုဒ်မ ၃၀ အရ လယ်ယာမြေကိုအခြားနည်း အသုံးပြုရန် ခွင့်ပြုချက်ရရှိသူက ခွင့်ပြုချက်ရရှိသည့်နေ့ရက်မှ (၆)လ (ခြောက်လ)အတွင်း လယ်ယာမြေကို သတ်မှတ်သည့် နည်းလမ်း အတိုင်း စတင် အသုံးမပြုကြောင်း သော်လည်းကောင်း၊ သတ်မှတ် ကာလအတွင်း လုပ်ငန်းပြီးစီး မှုမရှိ ကြောင်းသော်လည်းကောင်း တွေ့ရှိလျှင်ဖြစ်စေ၊ လယ်ယာမြေ ဥပဒေပုဒ်မ ၃၇ အရ ပြစ်မှုထင်ရှား စီရင်ခြင်းခံရကြောင်း သိရှိလျှင်ဖြစ်စေ သက်ဆိုင်သည့် လယ်ယာမြေကို ပြန်လည်သိမ်းယူနိုင်ရေးအတွက် မြို့နယ်လယ်ယာမြေ စီမံခန့်ခွဲမှုအဖွဲ့သည် ခရိုင်လယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့နှင့် နေပြည်တော်ကောင်စီ သို့မဟုတ် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့တို့မှတစ်ဆင့်ဗဟိုလယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့သို့ တင်ပြရမည်။

၅၇။ လယ်ယာမြေဥပဒေပုဒ်မ ၁၂ ပါစည်းကမ်းချက်အားလုံးကိုဖြစ်စေ၊ စည်းကမ်း ချက် တစ်ခုခုကိုဖြစ်စေ လိုက်နာရန် ပျက်ကွက်ခြင်းနှင့်စပ်လျဉ်း၍ စုံစမ်းစစ်ဆေးပြီး အမိန့်ချမှတ်ရန် ဝန်ကြီးဌာနက ခန့်အပ်သည့် လယ်ယာမြေ စီမံခန့်ခွဲမှုအဖွဲ့သည် ပုဒ်မ ၁၉၊ ပုဒ်မခွဲ(ဂ) သို့မဟုတ် (ဃ) ပါ စီမံခန့်ခွဲရေး ပြစ်ဒဏ်တစ်ရပ်ရပ် ချမှတ်သည့်ကိစ္စနှင့် စပ်လျဉ်း၍သက်ဆိုင်ရာ လယ်ယာမြေလုပ်ပိုင်ခွင့်ကို ပြန်လည်သိမ်းယူနိုင်ရေးအတွက် ဗဟိုလယ်ယာမြေစီမံခန့်ခွဲမှု အဖွဲ့သို့ အဆင့်ဆင့်တင်ပြရမည်။

၅၈။ လယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့ အဆင့်ဆင့်သည်-

(က) လယ်ယာလုပ်ငန်းခွင်တွင်အလုပ်လုပ်ကိုင်နေသူများသင့်တင့်မျှတသော လုပ်အားခ နှင့် အလုပ်အကိုင်အခွင့်အလမ်း ရရှိရေးအတွက် ဆောင်ရွက်ပေးရမည်။

(ခ) လက်မှုလယ်ယာစနစ်မှ စက်မှုလယ်ယာစနစ်သို့ ကူးပြောင်းနိုင်ရေးအတွက် လိုအပ်သော အကူအညီများရရှိရန် ဆက်စပ်ဆောင်ရွက်ပေးရမည်။

(ဂ) သီးနှံအမျိုးအစားအလိုက်စိုက်ပျိုးစရိတ်ငွေအရင်းအနှီးရရှိရေးအတွက်စည်းကမ်း သတ်မှတ်ချက် များနှင့်အညီ ကူညီဆောင်ရွက်ပေးရမည်။

(ဃ) သီးနှံမျိုးကောင်းမျိုးသန့်နှင့် နည်းပညာအကူအညီရရှိရေးအတွက် ပံ့ပိုးကူညီဆောင်ရွက်ပေး ရမည်။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၂ / ၃ - ၆ (၅) / စီးပွား
ရက် စွဲ ၊၂၀၁၃ ခုနှစ်၊ ဇန်နဝါရီ လ ၁၉ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**
ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၅. ၉. ၂၀၁၂ ရက်စွဲပါစာအမှတ်၊ ရက-၆(ခ) /န - ၇၁၇ / ၂၀၁၂ ( ၁၁၁၁၆ )

၁။ တရုတ်ပြည်သူ့သမ္မတနိုင်ငံမှ Kunming Long Trading Co:Ltd သည်မြန်မာနိုင်ငံတွင် ရာနှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ASIA Agriculture Co:Ltd တည်ထောင်ကာရန်ကုန်မြောက်ပိုင်းခရိုင်၊ လှည်းကူးမြို့နယ်၊ ရဲမွန်ကျေးရွာအုပ်စုတွင် ဆန်စပါးစိုက်ပျိုးခြင်း၊ လယ်ယာသီးနှံများအား စိုက်ပျိုးခြင်း၊ တာရှည်ခံအောင်ပြုလုပ်ခြင်းနှင့် ဧရာဝတီတိုင်းဒေသကြီး၊ ဖျာပုံမြို့၊ အောက်ကွင်းကျေးရွာတွင် ဆန်စက်တည်ထောင်လုပ်ကိုင်ခြင်း လုပ်ငန်းများဆောင်ရွက်ခွင့်ပြုပါရန် ASIA Agriculture Co:Ltd မှ လျှောက်ထားလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ညှိနှိုင်းလာခြင်းနှင့်ပတ်သက်၍ ကွင်းဆင်းစီစစ်မှုအရ အောက်ပါအတိုင်းသဘောထားမှတ်ချက် တင်ပြအပ်ပါသည် -

(က) အဆိုပြုမြေနေရာသည် လယ်ယာစီမံကိန်းနှင့် ကိုက်ညီမှုရှိပါသည်၊
(ခ) အဆိုပြုလုပ်ငန်းသည် တောင်သူလယ်သမားတို့၏ လယ်ယာ/စီးပွားရေးကိုထိခိုက်နိုင်မှုမရှိပါ၊
(ဂ) အဆိုပြုလုပ်ငန်းသည် လယ်ယာသီးနှံများအားစိုက်ပျိုးခြင်း/တာရှည်ခံအောင်ဆောင်ရွက် ပြုလုပ်ပြီး သဘာဝပတ်ဝန်းကျင်အား ထိခိုက်နိုင်မှုမရှိပါ၊
(ဃ) ၂၀၁၂-၂၀၁၃ မိုးတွင်း မိုးစပါး၌ ၄င်းတို့မျိုးဖြင့်စိုက်ပျိုးပြီး တောင်သူပညာပေးလုပ်ငန်းများ လုပ်ကိုင်ခဲ့သဖြင့် အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးကိုက်ညီမှုရှိပြီး နည်းပညာခေတ်မီတာရှည်ခံအောင် ပြုလုပ်ခြင်းလုပ်ငန်းများ ဟင်းသီးဟင်းရွက်စိုက်ခင်း များလည်းရင်းနှီးအကျိုးပြုနိုင်ပါသည်။

၂။ အထက်ဖော်ပြပါအချက်များကြောင့် ၃. ၁. ၂၀၁၃ ရက်နေ့တွင်ကျင်းပပြုလုပ်သော ရန်ကုန်တိုင်း ဒေသကြီးအစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ်( ၁/၂၀၁၃ ) ဆုံးဖြတ်ချက်အပိုဒ် (၃၇) အရ ASIA Agriculture Co:Ltd ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးစိုက်ပျိုးရေးနှင့်မွေးမြူရေးဝန်ကြီး

ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနအုပ်ချုပ်ရေးမှူးရုံး

မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနအုပ်ချုပ်ရေးမှူးရုံး၊ လှည်းကူးမြို့နယ်

ASIA Agriculture Co:Ltd

လက်ခံစာတွဲ

မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊၁၁/အထွေထွေ( ၅၆ /၂၀၁၃)
ရက်စွဲ၊ ၂၀၁၃ ခုနှစ်၊ ဖေဖော်ဝါရီလ ၅ ရက်

အကြောင်းအရာ။ Asia Agriculture Co., Ltd မှ ရာနှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ဆန်စပါးစိုက်ပျိုးလုပ်ကိုင်ရန် အဆိုပြုတင်ပြလာခြင်းအပေါ် မူဝါဒ သဘောထား တောင်းခံလာခြင်းကိစ္စ

ရည်ညွှန်းချက်။ (၁) အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန၊ ဝန်ကြီးရုံး၏ (၅.၁၁.၂၀၁၂) ရက်စွဲပါစာအမှတ်၊ အမစ-၁/၃/၄၃(၄၉၇၂)

(၂) လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၏ (၂၁.၁၁.၂၀၁၂)ရက်စွဲပါစာအမှတ်၊၁၁/အထွေထွေ( ၇၆၉ /၂၀၁၂)

၁။ Asia Agriculture Co., Ltd မှ ရာနှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ဆန်စပါးစိုက်ပျိုးလုပ်ကိုင်ရန်အဆိုပြုတင်ပြလာခြင်းကိစ္စနှင့် ပတ်သက်၍ အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုး တိုးတက်မှုဝန်ကြီးဌာနမှ ရည်ညွှန်း(၁) ပါစာ ဖြင့် လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၏သဘောထားမှတ်ချက်အား တောင်းခံလာပါသည်။

၂။ ယင်းကိစ္စနှင့်ပတ်သက်၍ အဆိုပါကုမ္ပဏီအနေဖြင့် လယ်ယာကဏ္ဍဆိုင်ရာ ရင်းနှီးမြှုပ်နှံမည့်လုပ်ငန်းများတွင် အဓိကရည်မှန်းထားရှိခြင်းအပေါ်၊ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီး ဌာနသို့လာရောက်တွေ့ဆုံရှင်းလင်းတင်ပြခြင်း၊ ညှိနှိုင်းခြင်းများကို ဦးစွာဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ပါကြောင်း ရည်ညွှန်း(၂) ပါစာဖြင့် ပြန်ကြားခဲ့ပါသည်။

၃။ ယခုအခါ အဆိုပါကုမ္ပဏီသည် လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနသို့ လာရောက် တွေ့ဆုံဆွေးနွေးပြီး ဖြစ်ပါသဖြင့် ၎င်းတို့အဆိုပြု တင်ပြလာသည့်လုပ်ငန်း ကိစ္စအား လုပ်ထုံး လုပ်နည်းနှင့်အညီ ဆက်လက်ဆောင်ရွက် နိုင်ရေးအပေါ် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ဒုတိယဝန်ကြီး(ကိုယ်စား)
(သက်နိုင်ဦး၊ ရုံးအဖွဲ့မှူး)

ရုံးအဖွဲ့မှူး၊ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန
မိတ္တူကို

- ညွှန်ကြားရေးမှူးချုပ်၊ နိုင်ငံတော်သမ္မတရုံး
- ရုံးလက်ခံ
- မျှောစာတွဲ

| | စီးပွားရေးလုပ်ငန်း အမျိုးအစား | ကန့်သတ်ချက် |
|---|---|---|
| | (၂) | (၃) |
| ၁၀ | ကြက်သားပေါက်မွေးမြူထုတ်လုပ်ခြင်း လုပ်ငန်း | ASEAN Biosecurity Mangement Manual for Commercial Poultry Farming နှင့် အညီ GAHP, GMPတို့နှင့် ဆောင်ရွက်ရမည်။ |
| ၁၁ | နွားနောက်မွေးမြူရေးလုပ်ငန်း | GAHP စနစ်ဖြင့် ဆောင်ရွက်ရမည်။ |
| ၁၂ | ရေချို/ရေငန်ပုစွန်မွေးမြူရေးလုပ်ငန်း | သဘာဝပတ်ဝန်းကျင်ကို မထိခိုက်စေသည့် သိပ္ပံနည်းကျ မွေးမြူရေး စနစ်ဖြင့်သာ ဆောင်ရွက်ရမည်။ |
| ၁၃ | ကျောက်မီးသွေးရှာဖွေထုတ်လုပ်ခြင်း လုပ်ငန်း | နိုင်ငံတော် နှင့် ဖက်စပ်စနစ်ဖြင့် ဆောင်ရွက်ရမည်။ |
| ၁၄ | တိုင်းရင်းဆေးများမှအပ အိမ်သုံး ဆေးဝါး ထုတ်လုပ်ခြင်းလုပ်ငန်း | အနိမ့်ဆုံး WHO ၊ GMP လိုက်နာဆောင်ရွက်ရမည်။ |
| ၁၅ | ကာကွယ်ဆေး၊ မူးယစ်ဆေး၊ စိတ်ပြောင်းဆေးများမှအပ ဆေးဝါးအမျိုးမျိုး ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း | အနိမ့်ဆုံး WHO၊ GMP လိုက်နာဆောင်ရွက်ရမည်။ |
| ၁၆ | ဥပဒေနှင့်အညီ ခွင့်ပြုသည့်အခြားအ ဆောက်အအုံ တည် ဆောက်ခြင်း၊ ပြုပြင် မွမ်းမံခြင်း၊ ထိန်းသိမ်း မွမ်းမံခြင်းလုပ်ငန်းများ | အာဆီယံ MRA အရ စံချိန်စံညွှန်း သတ်မှတ်ချက်များနှင့်အညီ ဆောင်ရွက်ရန်၊ Myanmar National Building Code, Rules and Regulations များနှင့် အညီ ဆောင်ရွက်ရမည်။ |
| ၁၇ | ဟိုတယ်လုပ်ငန်း | ကြယ် ၃ ပွင့်နှင့် အထက်အဆင့်သာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ၁၀၀% ခွင့်ပြုမည်။ [redacted] JV ဖြင့်သာ ခွင့်ပြုမည်။ |
| [redacted] | ကောက်ပဲသီးနှံများအား လိုအပ်သည့်သွင်းအားစုများအား တင်သွင်း အသုံးပြု၍ စိုက်ပျိုး ထုတ်လုပ်ပြီး ပြည်တွင်းဈေးကွက်၌ ဖြန့်ဖြူးခြင်း၊ ပြည်ပသို့တင်ပို့ခြင်း လုပ်ငန်း | တန်ဖိုးမြှင့် Value-added ပစ္စည်းများ ထုတ်လုပ်ခြင်း ကိုသာ ခွင့်ပြုမည်။ ဖက်စပ်စနစ်ဖြစ်ပါက တိုင်းရင်းသား လုပ်ငန်းရှင်မှ အနည်းဆုံး ၄၀ ရာခိုင်နှုန်း ပါဝင်ရမည်။ |

အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ASIA Agriculture Co, Ltd. တည်ထောင်၍ မြန်မာနိုင်ငံတွင် ဆန်စပါးနှင့် ပြောင်းများ စံပြလယ်ယာ စိုက်ခင်းများစိုက်ပျိုးပြင်ဆင်ခြင်း၊ အရည်အသွေးပြည်မီစေရန် နည်းပညာ အကူအညီဖြင့် လယ်သမားများနှင့် contract farming ပြုလုပ်ခြင်း ဆန်စပါးစိုက်ပျိုးခြင်း၊ လယ်ယာသီးနှံများအား စိုက်ပျိုးခြင်း၊ ဆန်စက်တည် ထောင်လုပ်ကိုင်ခြင်း၊ တာရှည်ခံ အောင်ပြုလုပ်ခြင်းလုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြုတင်ပြလာ ခြင်းကိစ္စ

| | | |
|---|---|---|
| ၁ | ကုမ္ပဏီအမည် | - **Asia Agriculture Co.,Ltd.**<br>- Kunming Long Trading Co.,Ltd. (China) 80%<br>- Top Partner Trading Co.,Ltd. (Myanmar) 20% |
| ၂ | အဖွဲ့အစည်းပုံသဏ္ဍာန် | - ဖက်စပ် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| ၃ | လုပ်ငန်းအမျိုးအစား | - ဆန်စပါးနှင့် ပြောင်းများ စံပြလယ်ယာ စိုက်ခင်းများ စိုက်ပျိုး ပြင်ဆင်ခြင်း၊ အရည်အသွေးပြည်မီစေရန် နည်းပညာအကူ အညီဖြင့် လယ်သမားများနှင့် contract farming စနစ်ဖြင့် ဆန်စပါးစိုက်ပျိုးခြင်း၊ လယ်ယာသီးနှံများအား စိုက်ပျိုးခြင်း၊ ဆန်စက်တည် ထောင်လုပ်ကိုင်ခြင်း၊ တာရှည်ခံအောင်ပြုလုပ် ခြင်းလုပ်ငန်း |
| ၄ | တည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်၊ ရဲမွန်ကျေးရွာ၊ ကွင်းအမှတ်(၁၀၂၄ နှင့် ၁၀၂၆)<br>- ဧရာဝတီတိုင်းဒေသကြီး၊ ဖျာပုံမြို့၊ အောက်ကွင်းကျေးရွာ၊ ကွင်းအမှတ်(၁၁၆၇) |
| ၅ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - အမေရိကန်ဒေါ်လာ ၂.၀၈၀ သန်း<br>- ကျပ် ၄၄၂,၀၀၀,၀၀၀ သန်း |
| ၆ | ထည့်ဝင်သည့် အမျိုးအစား | US$ / ကျပ် |
| | Building & Development | ၉၆၀,၂၈၂ / ၄၄၂,၀၀၀,၀၀၀ |
| | Machinery | ၆၂၁,၂၁၈ |
| | Vehicles(local) | ၃၀၅,၀၀၀ |
| | Office Equipment | ၇,၅၀၀ |
| | ကုန်ကြမ်းပစ္စည်း | ၁၈၆,၀၀၀ |
| | စုစုပေါင်း | ၂,၀၈၀,၀၀၀ / ၄၄၂,၀၀၀,၀၀၀ |

| | | | |
|---|---|---|---|
| ၇ | လုပ်ငန်းသက်တမ်း | - ၂၀နှစ် | |
| ၈ | စိုက်ပျိုးရေးကာလ | - ၂၄ လ | |
| | လုပ်ငန်းဆောင်ရွက်မည့် ဧရိယာ | - ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်၊ ရဲမွန်ကျေးရွာအုပ်စု ၁၀၆.၇၁ ဧက (ဆန်စပါးစိုက်ပျိုးခြင်း၊လယ်ယာသီးနှံများအားစိုက်ပျိုးခြင်း)<br>- ဧရာဝတီတိုင်းဒေသကြီး၊ ဖျာပုံမြို့၊ အောက်ကွင်းကျေးရွာ ၂.၃၅ ဧက (ဆန်စက်တည်ထောင်ခြင်း) | |
| ၉ | စိုက်ပျိုးထုတ်လုပ်မည့် သီးနှံများ | - Rice, bran, paddy seed, corn seed, dried corn | |
| ၁၀ | နှစ်စဉ်မြေငှားရမ်းခ | - တစ်လ - ၁ဧက - ၃၀၀၀၀ကျပ်<br>တစ်နှစ် - ၁၀၆.၇၁ ဧက - ၃၈,၄၁၅,၆၀၀ ကျပ်<br>- တစ်လ - ၂.၃၅ ဧက - USD ၅၀၀<br>တစ်နှစ် - ၂.၃၅ ဧက - USD ၆,၀၀၀<br>- (၂.၃၅ဧကနှင့် ၎င်းမြေပေါ်ရှိ အဆောက်အဦးများ၊ ဆိပ်ခံတံတားများအားလုံးကိုဆိုလိုသည်။) | |
| ၁၁ | ရောင်းချမည့်နည်းစနစ် | - ပြည်တွင်း ၅၀%<br>- ပြည်ပ ၅၀% (ဖွံ့နှ မှအပ) | |
| ၁၂ | ထုတ်လုပ်မှု (ပုံမှန်နှစ်)ဖြန့်ဖြူးကြောက် | - Kg | |
| | Rice | - ၁,၇၂၀,၀၀၀ | |
| | Broken Rice | - ၅၇၃,၃၃၃ | |
| | Bran | - ၁၇၂,၀၀၀ | |
| | Paddy Seed | - ၁၃၀,၀၀၀ | |
| | Corn Seed | - ၁၃၀,၀၀၀ | |
| | Dried Corn | - ၅၇၀,၀၀၀<br>- | |
| ၁၃ | - ရောင်းဈေးနှုန်း (ပုံမှန်နှစ်) Kg | - ပြည်တွင်း (ကျပ်) | ပြည်ပ(US$) |
| | Rice | ၃၂၃ | ၀.၃၈ |
| | Broken Rice | ၁၈၀ | ၀.၂၁ |
| | Bran | ၃၆ | - |
| | Paddy Seed | ၁,၇၀၀ | ၂ |
| | Corn Seed | ၁,၇၀၀ | ၂ |
| | Dried Corn | ၂၁၃ | ၀.၂၅ |

| | | |
|---|---|---|
| ၁၄ | ကုမ္ပဏီဝင်ငွေ (ပုံမှန်နှစ်)<br><br>ပြည်တွင်း<br>ပြည်ပ | -<br><br>- ကျပ် ၆၁၇,၁၃၅,၅၀၀<br>- အမေရိကန်ဒေါ်လာ ၇၁၈,၇၅၆<br>- |
| ၁၅ | ကုမ္ပဏီ၏ အသားတင်အမြတ်<br>(ပုံမှန်နှစ်) | - အမေရိကန်ဒေါ်လာ ၁၃၅,၀၇၆<br><br>- ကျပ် ၁၈၈,၇၅၁,၅၀၀ |
| ၁၆ | နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ်<br><br>- ကုန်သွယ်လုပ်ငန်းခွန်<br>- ဝင်ငွေခွန်(၈နှစ်မြောက်) | <br><br>- အမေရိကန်ဒေါ်လာ သန်း(ဖော်ပြထားခြင်းမရှိပါ)<br>- အမေရိကန်ဒေါ်လာ ၃၃,၇၆၉ |
| ၁၇ | အရင်းကြေကာလ | - ၇နှစ် |
| ၁၈ | အရင်းအနှီးအပေါ် အကျိုးအမြတ်<br>ပြန်ပေါ်နှုန်း (IRR) | - ၁၀.၆၀ % |
| ၁၉ | ဝန်ထမ်းအင်အား<br>ပြည်ပမွင်.<br>ပြည်ပ | - ၁၀၆<br>၉၃<br>၁၃ |
| ၂၀ | အခြား | တရုတ်ပြည်သူ့သမ္မတနိုင်ငံ Kunming Long Trading Co., Ltd.မှ ရာနှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Asia Agriculture Co.,Ltd. တည်ထောင်၍ ဆန်စပါးစိုက်ပျိုးခြင်း၊ ဆန်စက်တည်ထောင်လုပ်ကိုင်ခြင်း၊ လယ်ယာသီးနှံများအား စိုက်ပျိုးခြင်း၊ တာရှည်ခံအောင်ပြုလုပ်ခြင်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြထားရာ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၄) ပုဒ်မ(၃၅) တွင် "ရင်းနှီးမြှုပ်နှံ သူသည် နိုင်ငံသားများလုပ်ကိုင်ခွင့်ရရှိထားသည့် မြေယာများ၌ စိုက်ပျိုးရေး လုပ်ငန်းများနှင့် မွေးမြူရေးလုပ်ငန်းများ ကန်ထရိုက်စနစ်ဖြင့် ဆောင်ရွက်ရာတွင် နိုင်ငံသား ရင်းနှီးမြှုပ်နှံသူနှင့် ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ခွင့်ရှိသည်" ဟုဖော်ပြ ချက်အရ Kunming Long Trading Co.,Ltd. 80% နှင့် Top Partner Trading Co.,Ltd. 20% ဖက်စပ်ပြု တင်ပြလာခြင်းဖြစ် ပါသည်။ |

| | | |
|---|---|---|
| | | - (၃၁-၁-၂၀၁၃)ရက်နေ့တွင် ထုတ်ပြန်ထားသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အမိန့်ကြော်ငြာစာအမှတ် ၁/၂၀၁၃ အရ အခြားခွင့်ပြုချက်ဖြင့် ဆောင်ရွက်ခွင့်ပြုသည့် စီးပွားရေးလုပ်ငန်း အမျိုးအစားများစာရင်း အပိုဒ်(၁၈)တွင် ဖက်စပ်စနစ် ဖြစ်ပါက တိုင်းရင်းသား လုပ်ငန်းရှင်မှ အနည်းဆုံး ၄၀% ပါဝင် ရမည်ဖြစ်ပါသည်။<br>- လယ်မြေငှားရမ်းခကို ငှားရမ်းမည့်နှစ်မှစ၍ ပထမသုံးနှစ်အထိ ကိုမူလနှုန်းအတိုင်းဖြစ်ပြီး စတုတ္ထနှစ်မှ အစပြု၍ နှစ်စဉ်(၅%) နှုန်းတိုးမြှင့်ကောက်ခံသွားမည်ဖြစ်သည်။<br>- မျိုးစေ့များကို ပြည်ပမှ တင်သွင်းမည်ဖြစ်ပါသည်။<br>- ကုမ္ပဏီ၏ MOA, AOA မူကြမ်းကို တင်ပြထားပါသည်။<br>- ငွေရေးကြေးရေးအထောက်အထားအဖြစ် Kunming Long Trading Co.,Ltd. သည် တရုတ်နိုင်ငံရှိ Agricultural Bank of China တွင် (၁၂-၁၂-၂၀၁၁) နေ့စွဲဖြင့် RMB 3,002,900.82 (၎င်းနှင့် ညီမျှသော US$ ၄၈၁၈၁၃.၂) ရှိကြောင်းနှင့် Top Partner Trading Co.,Ltd. သည် Livestock and Fisheries Development တွင် (၁၄-၂-၂၀၁၃) ရက်စွဲဖြင့် မြန်မာကျပ် ၈၀၂၈၈၁၈၆.၅၀ ရှိကြောင်း ထောက်ခံ တင်ပြထားပါသည်။<br>- Kunming Long Trading Co.,Ltd. နှင့် Top Partner Trading Co.,Ltd. တို့ချုပ်ဆိုထားသော Joint Venture Agreement စာချုပ် (မူကြမ်း) ကိုလည်း တင်ပြထားပါသည်။<br>- 1 US $ လျှင် ၈၅၀ ကျပ်ဖြင့် တွက်ချက်ထားပါသည်။<br>- သဘာဝပတ်ဝန်းကျင်ကာကွယ်ရေးအစီအစဉ်များကိုလည်းတင်ပြထားပါသည်။<br>- ဧရာဝတီတိုင်းဒေသကြီး၊ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန၊ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စီမံကိန်းစီစစ်ရေးနှင့် တိုးတက်မှုအစီရင်ခံရေးဦးစီးဌာနများသို့ သဘောထားမှတ်ချက်များတောင်းခံထားရာ စုံလင်စွာရရှိပြီးဖြစ်ပါ သည်။<br>- ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ ဥပဒေဌာန၏ သဘောထားပြန်ကြားချက်အရ လယ်ယာမြေငှားရမ်း အသုံးပြုခွင့်စာချုပ်နှင့် မြေငှားရမ်းစာချုပ်များကို စာချုပ်အင်္ဂါရပ်နှင့်ကိုက်ညီအောင်ချုပ်ဆိုသင့်ပါကြောင်း အကြံပြုသုံးသပ်ထားပါသည်။ |

- လယ်ယာမြေငှားရမ်းအသုံးပြုခွင့် နှစ်ဦးသဘောတူစာချုပ်များကို တင်ပြထားပါသည်။
- အောက်ဖော်ပြပါယာဉ်များကိုပြည်တွင်းတွင်ဝယ်ယူမည်ဖြစ်ပါသည်-

| **အမျိုးအစား** | **အရေအတွက်** | **တန်ဖိုး(US$)** |
|---|---|---|
| Truck | 10 | 200,000 |
| Vehicles | 5 | 100,000 |
| Motor Cycle | 10 | 5.000 |

အကြောင်းအရာ။ Asia Agriculture Co.,Ltd. မှ ဆန်စပါးစိုက်ပျိုးခြင်း၊ ဆန်စက်တည်ထောင်လုပ်ကိုင်ခြင်း၊ လယ်ယာသီးနှံများအား စိုက်ပျိုးခြင်း၊ တာရှည်ခံအောင်ပြုလုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

| | | | |
|---|---|---|---|
| ၁ | ကုမ္ပဏီအမည် | - Asia Agriculture Co.,Ltd.<br>- Kunming Long Trading Co.,Ltd. (China) 80%<br>- Top Partner Trading Co.,Ltd. (Myanmar) 20% | |
| ၂ | အဖွဲ့အစည်းပုံသဏ္ဌာန် | - ဖက်စပ် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု | |
| ၃ | လုပ်ငန်းအမျိုးအစား | - ဆန်စပါးစိုက်ပျိုးခြင်း၊ ဆန်စက်တည်ထောင်လုပ်ကိုင်ခြင်း၊ လယ်ယာသီးနှံများအား စိုက်ပျိုးခြင်း၊ တာရှည်ခံအောင် ပြုလုပ်ခြင်း | |
| ၄ | တည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်၊ ရဲမွန်ကျေးရွာ၊ ကွင်းအမှတ်(၁၀၂၄ နှင့် ၁၀၂၆)<br>- ဧရာဝတီတိုင်းဒေသကြီး၊ ဖျာပုံမြို့၊ အောက်ကွင်းကျေးရွာ၊ ကွင်းအမှတ်(၁၁၆၇) | |
| ၅ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - အမေရိကန်ဒေါ်လာ ၂.၀၈၁ သန်း<br>- ကျပ် ၄၄၂.၀၀၀ သန်း | |
| ၆ | ထည့်ဝင်သည့် အမျိုးအစား | - KLT (US$ ) | TPC ကျပ်(သန်း) |
| | Building & Development | ၉၆၀,၂၈၂ | ၄၄၂,၀၀၀,၀၀၀ |
| | Machinery | ၆၂၁,၂၁၈ | |
| | Vehicles | ၃၀၅,၀၀၀ | |
| | Office Equipment | ၇,၅၀၀ | |
| | ကုန်ကြမ်းပစ္စည်း | ၁၈၆,၀၀၀ | |
| | စုစုပေါင်း | ၂,၀၈၀,၀၀၀ | ၄၄၂,၀၀၀,၀၀၀ |
| ၇ | လုပ်ငန်းသက်တမ်း | - ၂၀နှစ် | |
| ၈ | မြေဧရိယာ | - ၁၀၆.၇၁ ဧက (ဆန်စပါးစိုက်ပျိုးခြင်း၊လယ်ယာသီးနှံများအားစိုက်ပျိုးခြင်း)<br>- ၂.၃၅ ဧက (ဆန်စက်တည်ထောင်ခြင်း) | |

| | | | | |
|---|---|---|---|---|
| ၉ | နှစ်စဉ်မြေငှားရမ်းခ | - တစ်လ | - ၁၈ဧက | - ၃၀၀၀၀ကျပ် |
| | | တစ်နှစ် | - ၁၀၆.၇၁ ဧက | - ၃၈,၄၁၅,၆၀၀ ကျပ် |
| | | - တစ်လ | - ၂.၃၅ ဧက | - USD ၅၀၀ |
| | | တစ်နှစ် | - ၂.၃၅ ဧက | - USD ၆,၀၀၀ |
| | | - (၂.၃၅ဧကနှင့် ၎င်းမြေပေါ်ရှိ အဆောက်အဦးများ၊ ဆိုင်ခံတဲ့တားများအားလုံးကိုဆိုလိုသည်။) | | |
| ၁၀ | ရောင်းချမည့်နည်းစနစ် | - ပြည်တွင်း ၅၀% | | |
| | | - ပြည်ပ ၅၀% | | |
| ၁၁ | ထုတ်လုပ်မှု (ပုံမှန်နှစ်) | - Kg | | |
| | Rice | - ၁,၇၂၀,၀၀၀ | | |
| | Broken Rice | - ၅၇၃,၃၃၃ | | |
| | Bran | - ၁၇၂,၀၀၀ | | |
| | Paddy Seed | - ၁၃၀,၀၀၀ | | |
| | Corn Seed | - ၁၃၀,၀၀၀ | | |
| | Dried Corn | - ၅၇၀,၀၀၀ | | |
| | | - | | |
| ၁၂ | ရောင်းဈေးနှုန်း (ပုံမှန်နှစ်) | - ပြည်တွင်း (ကျပ်) | | ပြည်ပ(US$) |
| | Rice | ၃၂၃ | | ၀.၃၈ |
| | Broken Rice | ၁၈၀ | | ၀.၂၀ |
| | Bran | ၃၆ | | - |
| | Paddy Seed | ၁,၇၀၀ | | ၂ |
| | Corn Seed | ၁,၇၀၀ | | ၂ |
| | Dried Corn | ၂၁၃ | | ၀.၂၅ |
| | | - | | |
| ၁၃ | ကုမ္ပဏီဝင်ငွေ (ပုံမှန်နှစ်) | - | | |
| | ပြည်တွင်း | - ကျပ် ၆၁၇,၁၃၅,၅၀၀ | | |
| | ပြည်ပ | - အမေရိကန်ဒေါ်လာ ၇၁၈,၇၅၆ | | |
| | | - | | |

| | | |
|---|---|---|
| ၁၄ | ကုမ္ပဏီ၏ အသားတင်အမြတ် (ပုံမှန်နှစ်) | - အမေရိကန်ဒေါ်လာ ၁၃၅,၀၇၆<br>- ကျပ် ၁၈၈,၇၅၁,၅၀၀ |
| ၁၅ | နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ် (ရနှစ်မြောက်)<br>- ကုန်သွယ်လုပ်ငန်းခွန်<br>- ဝင်ငွေခွန် | <br><br>- အမေရိကန်ဒေါ်လာ သန်း(ဖော်ပြထားခြင်းမရှိပါ)<br>- အမေရိကန်ဒေါ်လာ ၃၃,၇၆၉ သန်း |
| ၁၆ | အရင်းကြေကာလ | - ၇နှစ် |
| ၁၇ | အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၁၀.၆၀ % |
| ၁၈ | ဝန်ထမ်းအင်အား<br>ပြည်တွင်း<br>ပြည်ပ | - ၁၀၆<br>- ၉၃<br>- ၁၃ |
| ၂၉ | အခြား | - Kunming Long Trading Co.,Ltd. မှ ရာနှုန်းပြည့်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Asia Agriculture Co.,Ltd. တည်ထောင်၍ ဆန်စပါးစိုက်ပျိုးခြင်း၊ ဆန်စက်တည်ထောင်လုပ်ကိုင်ခြင်း၊ လယ်ယာသီးနှံများအား စိုက်ပျိုးခြင်း၊ တာရှည်ခံအောင် ပြုလုပ်ခြင်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြထားရာ လယ်ယာ စိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၄) ပုဒ်မ(၃၅)တွင် "ရင်းနှီးမြှုပ်နှံသူသည် နိုင်ငံသားများလုပ်ကိုင်ခွင့်ရရှိထားသည့် မြေယာများ၌ စိုက်ပျိုးရေး လုပ်ငန်းများနှင့်မွေးမြူရေးလုပ်ငန်းများကန်ထရိုက် စနစ်ဖြင့် ဆောင်ရွက်ရာတွင် နိုင်ငံသားရင်းနှီးမြှုပ်နှံသူနှင့် ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ခွင့်ရှိသည်" ဟုဖော်ပြ ချက်အရ Kunming Long Trading Co.,Ltd. 80% နှင့် Top Partner Trading Co.,Ltd. 20% ဖက်စပ်ပြု တင်ပြလာခြင်းဖြစ် ပါသည်။<br>- (၃၁-၁-၂၀၁၃)ရက်နေ့တွင် ထုတ်ပြန်ထားသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် အမိန့်ကြော်ငြာစာအမှတ် ၁/၂၀၁၃ အရ အခြားခွင့်ပြုချက်ဖြင့် ဆောင်ရွက်ခွင့်ပြုသည့် စီးပွားရေးလုပ်ငန်း အမျိုးအစားများစာရင်း အပိုဒ်(၁၈)တွင် ဖက်စပ်စနစ် ဖြစ်ပါက တိုင်းရင်းသား လုပ်ငန်းရှင်မှ အနည်းဆုံး ၄၀% ပါဝင် ရမည်ဖြစ် ပါသည်။ |

| | | |
|---|---|---|
| | | - ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ ဥပဒေဌာန၏ သဘောထားပြန်ကြားချက်အရ လယ်ယာမြေငှားရမ်း အသုံးပြုခွင့်စာချုပ်နှင့် မြေငှားရမ်းစာချုပ်များကို စာချုပ်အင်္ဂါရပ်နှင့် ကိုက်ညီအောင်ချုပ်ဆိုသင့်ပါကြောင်း အကြံပြုသုံးသပ်ထားပါသည်။<br>- လယ်ယာမြေငှားရမ်းအသုံးပြုခွင့် နှစ်ဦးသဘောတူစာချုပ်များကို တင်ပြထားပါသည်။<br>- လယ်မြေငှားရမ်းခကို ငှားရမ်းမည့်နှစ်မှစ၍ ပထမသုံးနှစ်အထိ ကိုမူလနှုန်းအတိုင်းဖြစ်ပြီး စတုတ္ထနှစ်မှ အစပြု၍ နှစ်စဉ်(၅%) နှုန်းတိုးမြှင့်ကောက်ခံသွားမည်ဖြစ်သည်။<br>- ~~မျိုးစေ့အပါအဝင် ကုန်ကြမ်းများကိုပြည်ပမှတင်သွင်းမည်ဖြစ်ပြီး ပြည်ပ ၅၀%နှင့် ပြည်တွင်း ၅၀% ရောင်းချသွားမည်ဖြစ်ပါသည်။~~<br>- ကုမ္ပဏီ၏ MOA, AOA မူကြမ်းကို တင်ပြထားပါသည်။<br>- ငွေရေးကြေးရေးအထောက်အထားအဖြစ် Kunming Long Trading Co.,Ltd. သည် တရုတ်နိုင်ငံရှိ Agricultural Bank of China တွင် (၁၂-၁၂-၂၀၁၁) နေ့စွဲဖြင့် US$ ၄၈၁၈၁၃.၂ ရှိကြောင်းနှင့် Top Partner Trading Co.,Ltd. သည် Livestock and Fisheries Development တွင် (၁၄-၂-၂၀၁၃) ရက်စွဲဖြင့် မြန်မာကျပ် ၈၀၂၈၈၁၈၆.၅၀ ရှိကြောင်း ထောက်ခံတင်ပြထားပါသည်။<br>- Kunming Long Trading Co.,Ltd. နှင့် Top Partner Trading Co.,Ltd. တို့ချုပ်ဆိုထားသော Joint Venture Agreement စာချုပ် (မူကြမ်း) ကိုလည်း တင်ပြထားပါသည်။<br>- 1 US $ လျှင် ၈၅၀ ကျပ်ဖြင့် တွက်ချက်ထားပါသည်။<br>- သဘာဝပတ်ဝန်းကျင်ကာကွယ်ရေးအစီအစဉ်များကိုလည်းတင်ပြထားပါသည်။<br>- ဧရာဝတီတိုင်းဒေသကြီး၊ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန၊ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စီမံကိန်းစိစစ်ရေးနှင့် တိုးတက်မှုအစီရင်ခံရေးဦးစီးဌာနများသို့ သဘောထားမှတ်ချက်များတောင်းခံထားရာ စုံလင်စွာရရှိပြီးဖြစ်ပါ သည်။ |

- အောက်ဖော်ပြပါကားများကိုပြည်တွင်းတွင်ဝယ်ယူမည်ဖြစ်ပါသည်

| အမျိုးအစား | အရေအတွက် | တန်ဖိုး |
|---|---|---|
| Truck | 10 | 200,000 |
| Vehicles | 5 | 100,000 |
| Motor Cycle | 10 | 5.000 |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

**ရင်းနှီးမြှုပ်နှံမှုသတင်းအချက်အလက်စုဆောင်းရှာဖွေမြှင့်တင်ရေးအဖွဲ့**

ရုံးအမှတ်(၃၂)၊ နေပြည်တော်

စာအမှတ်၊ ရက- ၆(ခ)/န-၇၁၇/၂၀၁၃ ( ၂၄၂၉ )

ရက်စွဲ ၊ ၂၀၁၃ ခုနှစ် ဖေဖော်ဝါရီလ ၁၉ ရက်

**ရင်းနှီးမြှုပ်နှံမှုသတင်းအချက်အလက်စုဆောင်းရှာဖွေမြှင့်တင်ရေး**

**အဖွဲ့သို့တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ASIA Agriculture Co, Ltd. တည်ထောင်၍ မြန်မာနိုင်ငံတွင် ဆန်စပါးနှင့် ပြောင်းများ စံပြလယ်ယာစိုက်ခင်းများစိုက်ပျိုးပြင်ဆင်ခြင်း၊ အရည်အသွေးပြည့်မီစေရန် နည်းပညာအကူအညီဖြင့် လယ်သမားများနှင့် contract farming ပြုလုပ်ခြင်း ဆန်စပါးစိုက်ပျိုးခြင်း၊ လယ်ယာသီးနှံများအား စိုက်ပျိုးခြင်း၊ ဆန်စက်တည်ထောင်လုပ်ကိုင်ခြင်း၊ တာရှည်ခံ အောင်ပြုလုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာ ခြင်းကိစ္စ**

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် တရုတ်ပြည်သူ့သမ္မတနိုင်ငံ Kunming Long Trading Co.,Ltd. မှ ၈၀% နှင့် မြန်မာနိုင်ငံ Top Partner Trading Co.,Ltd. မှ ၂၀% ထည့်ဝင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် ASIA Agriculture Co, Ltd. တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်၊ ရဲမွန်ကျေးရွာအုပ်စု ၁၀၆.၇၁ ဧကတွင် ဆန်စပါး စိုက်ပျိုးခြင်း၊ လယ်ယာသီးနှံများအား စိုက်ပျိုးခြင်း၊ တာရှည်ခံအောင်ပြုလုပ်ခြင်း လုပ်ငန်းနှင့် ဧရာဝတီတိုင်းဒေသကြီး၊ ဖျာပုံမြို့၊ အောက်ကွင်းကျေးရွာ ၂.၃၅ ဧကတွင် ဆန်စက်တည်ထောင်လုပ်ကိုင်ခြင်းလုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုပါရန် ကော်မရှင်သို့ တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့် စပ်လျဉ်း၍ အဖွဲ့ဝင်များနှင့် ဌာနများမှ ကြိုတင်စိစစ်ပြီး လိုအပ်ချက်များ၊ ပြင်ဆင်ဖြည့်စွက်ရန်ကိစ္စများ၊ လုပ်ထုံးလုပ်နည်းများနှင့် မညီညွတ်သည့် ကိစ္စများကို ၈/၂၀၁၃ ကြိမ်မြောက် အစည်းအဝေးတွင် ဆွေးနွေးနိုင်ပါရန် တင်ပြအပ်ပါ သည်။

အဖွဲ့ခေါင်းဆောင်(ကိုယ်စား)

(ခင်လေးတင်၊ ညွှန်ကြားရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/ မျှောစာတွဲ

H:\ASIA Agriculture\ASIA Agriculture (IICPT Memo).doc

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန**
**ပြည်ထောင်စုဝန်ကြီးရုံး**

M.1859
22/10/12

စာအမှတ်၊ စက - ၁၄ / ၁ - ၁၈ / ၂၀၁၂ ( ၁၂ )
ရက်စွဲ ၊ ၂၀၁၂ ခုနှစ်၊အောက်တိုဘာလ ၁၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၅ - ၉ - ၂၀၁၂ ရက်စွဲပါစာအမှတ်၊ ရက-၆ (ခ) / န-၇၁၇ / ၂၀၁၂(၁၁၁၁၄)

၁။ တရုတ်ပြည်သူ့သမ္မတနိုင်ငံမှ Kunming Long Trading Co.,Ltd . သည် မြန်မာနိုင်ငံတွင် ရာနှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် AS/A Agriculture Co.,Ltd. တည်ထောင်ကာ ဆန်စပါးစိုက်ပျိုးခြင်း၊ ဆန်စက်တည်ထောင်လုပ်ကိုင်ခြင်း၊ လယ်ယာသီးနှံများအား စိုက်ပျိုးခြင်း၊ တာရှည်ခံအောင် ပြုလုပ်ခြင်းလုပ်ငန်းနှင့် ဆန်စက်တည်ထောင်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလာကြောင်း အဆိုပါလုပ်ငန်း ဆောင်ရွက်ရန် တင်ပြလာခြင်းတွင် ဆန်စပါးကို ပြည်တွင်း၌ထုတ်လုပ်၍ ပြည်တွင်း၊ ပြည်ပ ဈေးကွက်ရောင်းချခြင်း၊ ကောက်ပဲသီးနှံများ ထုတ်လုပ်ခြင်းအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ သဘောထားမှတ်ချက်ပြန်ကြားပေးရန် တောင်းခံလာသည့်ကိစ္စဖြစ်ပါသည်။

၂။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ နိုင်ငံခြားရင်းနှီးမြှုပ်နှံသူများအနေဖြင့် ဆန်စပါးကို ပြည်တွင်း၌ စိုက်ပျိုးထုတ်လုပ်၍ ပြည်တွင်း၊ ပြည်ပဈေးကွက်တွင် ရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်နိုင်ပါသည်။ သို့ရာတွင် ဆန်စပါးမှာ မြန်မာနိုင်ငံ၏ အဓိကစားသုံးသီးနှံဖြစ်သကဲ့သို့ နိုင်ငံတော်၏အဓိကပို့ကုန်ပစ္စည်းလည်းဖြစ်ပါသည်။ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အရ ဆောင်ရွက်သင့်ပါသည်။

၃။ ဆန်စပါးထုတ်လုပ် တင်ပို့ရောင်းချခြင်းလုပ်ငန်းကို နိုင်ငံခြားကုမ္ပဏီများအား ဆောင်ရွက်ခွင့်ပြုပါက ပြည်တွင်းလုပ်ငန်းရှင်များအနေဖြင့် နည်းပညာအရလည်းကောင်း၊ အရင်းအနှီးအရလည်းကောင်း၊ ဈေးကွက်အရလည်းကောင်း ယှဉ်ပြိုင်နိုင်စွမ်းရှိမည်မဟုတ်ပါ။ သို့ရာတွင် စိုက်ပျိုးထုတ်လုပ်တင်ပို့မှုများ တိုးတက်လာနိုင်ပါသည်။

၄။ ယခုရင်းနှီးမြှုပ်နှံမှု လုပ်ကိုင်မည့် နိုင်ငံခြားကုမ္ပဏီ၏ အဆိုပြုပါထုတ်လုပ်မှုသည် စိုက်ပျိုးကေတစ်ရာမှ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းသာဖြစ်သောကြောင့် ပြည်တွင်းလုပ်ငန်းများအား ထိခိုက်မှုမရှိနိုင်ပါ။

၅။ သို့ဖြစ်ပါ၍ အဆိုပါနိုင်ငံခြားကုမ္ပဏီသည် ကိုယ်တိုင်စိုက်ပျိုးထုတ်လုပ် ရောင်းချခြင်းဖြစ်သဖြင့် ကုန်သွယ်မှုရှုထောင့်မှ ကန့်ကွက်ရန်မရှိပါကြောင်း ညှိနှိုင်းပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(တိုးအောင်မြင့်၊ ရုံးအဖွဲ့မှူး )

မိတ္တူကို

- ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန

M.1571
8/10/12

၁၁၉ ၇/၁၀/၁၀

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ဧရာဝတီတိုင်းဒေသကြီး

စာအမှတ်၊ ၃၀၀ / ၁ - ၁၀ / အစိုးရ (ဧရာဝတီ) ထောက် ၁
ရက် စွဲ၊ ၂၀၁၂ ခုနှစ်၊ အောက်တိုဘာလ ရက်

သို့

အတွင်းရေးမှူး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ။ **ရာနှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ASIA Agriculture Co.,Ltd မှ မြန်မာနိုင်ငံတွင် ဆန်စပါးစိုက်ပျိုးခြင်း၊ ဆန်စက်တည်ထောင်လုပ်ကိုင်ခြင်း၊ လယ်ယာသီးနှံများအား စိုက်ပျိုးခြင်း၊ တာရှည်ခံအောင်ပြုလုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၅. ၉. ၂၀၁၂ ရက်စွဲပါစာအမှတ်၊ ရက - ၆ (ခ) / နှ - ၇၁၇ / ၂၀၁၂ (၁၁၁၁၇)

၁။ တရုတ်ပြည်သူ့သမ္မတနိုင်ငံမှ Kunming Long Trading Co.,Ltd သည် မြန်မာနိုင်ငံတွင် ရာနှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ASIA Agriculture Co.,Ltd တည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်၊ ရဲမွန်ကျေးရွာအုပ်စုတွင် ဆန်စပါးစိုက်ပျိုးခြင်း၊ လယ်ယာသီးနှံများအား စိုက်ပျိုးခြင်း၊ တာရှည်ခံအောင်ပြုလုပ်ခြင်းလုပ်ငန်းနှင့် ဧရာဝတီတိုင်းဒေသကြီး၊ ဖျာပုံမြို့နယ်၊ အောက်ကွင်းကျေးရွာတွင် ဆန်စက်တည်ထောင်လုပ်ကိုင်ခြင်းလုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာပါကြောင်း၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေဆိုင်ရာလုပ်ထုံးလုပ်နည်းများ အခန်း (၅)၊ အပိုဒ် (၁၂)ပါ ပြဋ္ဌာန်းချက်များနှင့်အညီ အဆိုပြုချက်ကို စိစစ်ရာတွင် သက်ဆိုင်ရာအဖွဲ့အစည်းများ၏ သဘောထားများကို တောင်းခံရယူရန် လိုအပ်ပါကြောင်း၊ သို့ဖြစ်ပါ၍ အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းနှင့် စပ်လျဉ်းသော အောက်ပါ အချက်များနှင့်ကိုက်ညီမှု ရှိ/မရှိကိုလည်း (၈. ၁၀. ၂၀၁၂)ရက်နေ့ နောက်ဆုံးထား၍ တိုင်းဒေသကြီးဝန်ကြီးချုပ် ကိုယ်တိုင် လက်မှတ်ရေးထိုးပြီး ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည် -

(က) အဆိုပြုမြေနေရာသည် မြို့ပြစီမံကိန်းနှင့် ကိုက်ညီမှုရှိ/မရှိ။
(ခ) ပြည်သူတို့၏ လူမှုစီးပွားရေးကို ထိခိုက်နိုင်မှုရှိ/မရှိ။
(ဂ) သဘာဝပတ်ဝန်းကျင် ထိခိုက်မှုရှိ/မရှိ။
(ဃ) မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးကိုက်ညီမှုရှိ/မရှိ။

၂။ အထက်ပါကိစ္စနှင့်ပတ်သက်၍ ဖျာပုံခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ ခရိုင်အုပ်ချုပ်ရေးမှူး ဦးဆောင်သောအဖွဲ့ဖြင့် စိစစ်စေခဲ့ရာ ပူးတွဲပါအတိုင်း စစ်ဆေးတွေ့ရှိရပြီး အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းနှင့် စပ်လျဉ်းသော အချက်များ ကိုက်ညီမှုရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ပူးတွဲ - (     ) ရွက်

( သိန်းအောင် )
ဝန်ကြီးချုပ်

မိတ္တူကို
လှည့်လည်စာတွဲ
ရုံးလက်ခံ

ဖျာပုံမြို့နယ်၊ အောက်ကွင်းကြီးကျေးရွာအုပ်စု၊ ဓာနည်ကျော်ဆန်စက်၊ အမှတ် (၁၁၆၇)အား ကွင်းဆင်းစစ်ဆေးတွေ့ရှိချက်

| စဉ် | စစ်ဆေးသည့်အကြောင်းအရာ | စစ်ဆေးတွေ့ရှိချက် |
|---|---|---|
| ၁။ | ဌာနရမ်းနိုင်ရေးအဆိုပြုနေရာသည် မြို့စီမံကိန်းနှင့် ကိုက်ညီမှု ရှိ/မရှိ။ | အဆိုပြုနေရာသည် မြို့ပြစီမံကိန်းလျာထားမှုတွင် ပါဝင်မှုမရှိသော်လည်း မြို့နှင့်အလှမ်းကွာဝေးခြင်း၊ လွန်ခဲ့သည့် ၁၉၆၀ ခုနှစ်ကပင် ဆန်စက်တည်ဆောက်အသုံးပြုခဲ့ခြင်း၊ ဆန်စက်မြေအဖြစ် ပြောင်းလဲအသုံးပြုခွင့်ကိုလည်း (၂၃. ၄. ၂၀၀၂)ရက်နေ့ကပင် ရရှိပြီးဖြစ်ခြင်း၊ လက်ရှိတွင် ဆန်စက်မြေအဖြစ် အသုံးပြုလျက်ရှိခြင်း၊ ရေလမ်းဖြင့်ဆက်သွယ်သွားလာမှုကောင်းမွန်ခြင်းများ စိစစ်တွေ့ရှိရပါသည်။ |
| ၂။ | ပြည်သူတို့၏ လူမှုစီးပွားရေးထိခိုက်နိုင်မှု ရှိ/မရှိ။ | လွန်ခဲ့သည့် ၁၉၆၀ ခုနှစ်ခန့်ကတည်းကစ၍ ယနေ့အထိ ဆန်စက်မြေအဖြစ် အသုံးပြုလျက်ရှိခြင်းကြောင့် ပြည်သူတို့၏ လူမှုစီးပွားရေးကို ထိခိုက်နိုင်မှုမရှိကြောင်း စိစစ်တွေ့ရှိရပါသည်။ |
| ၃။ | သဘာဝပတ်ဝန်းကျင်ထိခိုက်မှု ရှိ/မရှိ။ | သဘာဝပတ်ဝန်းကျင်ထိခိုက်မှုမရှိပါ။ သို့သော်လည်း လက်ရှိဆန်စက်အား ထပ်မံတိုးချဲ့ဆောင်ရွက်သည့်အခါ စွန့်ပစ်ပစ္စည်းများအား စနစ်တကျစွန့်ပစ်နိုင်ရန် လက်ရှိအသုံးပြုနေသောရေဆိုးထုတ်ရေစစ်ကန်ကိုဆက်လက်၍ စနစ်တကျပြုပြင်ဆောင်ရွက်သုံးစွဲရန် လိုအပ်ပါကြောင်း စိစစ်တွေ့ရှိရပါသည်။ |
| ၄။ | မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့်ဒေသစီးပွားရေး ကိုက်ညီမှု ရှိ/မရှိ။ | ဒေသ၏အလုပ်အကိုင်အခွင့်အလမ်းနှင့် ကိုက်ညီမှုရှိပါသည်။ အခြောက်ခံဆန်စက်တည်ဆောက်အသုံးပြုခြင်းဖြင့် ကျေးရွာအတွင်းနှင့် ပတ်ဝန်းကျင်ကျေးရွာများမှ ဒေသခံများအနေဖြင့် အမြဲတမ်းလုပ်သား (၂၇)ဦး၊ လခစားဝန်ထမ်း (၁၂)ဦးနှင့် လုပ်ငန်းတွင်ကျယ်သည့်ကာလတွင် နေ့စားလုပ်သား (၃၅)ဦး၊ စုစုပေါင်း (၇၄)ဦးတို့သည် အလုပ်အကိုင်များရရှိနိုင်ပါသည်။ ဖျာပုံမြို့နယ်သည် ဆန်စပါးလုပ်ငန်းကို အဓိကထားသည့် မြို့နယ်ဖြစ်သောကြောင့် ဒေသ၏စီးပွားရေးနှင့် ကိုက်ညီမှုရှိကြောင်း စိစစ်တွေ့ရှိရပါသည်။ |

ရက်စွဲ။ ၂၀၁၂ ခုနှစ်၊ အောက်တိုဘာလ ၃ ရက်

**အကြောင်းအရာ ။ Asia Agriculture Co.,Ltd. ၏ အဆိုပြုချက် အပေါ် ဥပဒေကြောင်းအရ စိစစ် သုံးသပ်ခြင်း ကိစ္စ**

၁။ Asia Agriculture Co.,Ltd. သည် ရန်ကုန်တိုင်း၊ လှည်းကူးမြို့နယ်၊ ရဲမွန်ကျေးရွာ၊ ရဲမွန်ကြီးကွင်း၊ ကွင်းအမှတ် (၁၀၂၄) တွင် လယ်ယာမြေငှားရမ်း၍ ဆန်စပါးစိုက်ပျိုးခြင်း၊ ဖျာပုံမြို့နယ်၊ အောက်ကွင်းကျေးရွာတွင် ဆန်စက်တည်ထောင်ခြင်း၊ လယ်ယာသီးနှံများအား စိုက်ပျိုးခြင်း၊ တာရှည်ခံအောင်ပြုလုပ်ခြင်း လုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရန် အဆိုပြုတင်ပြလာခြင်းကို ဥပဒေကြောင်းအရ စိစစ်သုံးသပ်ပေးပါရန် ရင်းနှီးမြှုပ်နှံမှုဌာန (၁) မှ မေတ္တာရပ်ခံပေးပို့လာ ခြင်း ဖြစ်ပါသည်။

၂။ အဆိုပြုချက်နှင့်အတူ ပူးတွဲပါအထောက်အထားများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) လုပ်ငန်းအဆိုပြုချက်နှင့် အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် လျှောက်ထားချက်

(ခ) လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၏ သဘောထားမှတ်ချက်

(ဂ) လယ်ယာမြေငှားရမ်းအသုံးပြုခွင့်စာချုပ်

(ဃ) မြေငှားရမ်းစာချုပ်

(င) သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်း(မူကြမ်း)

(စ) ငွေကြေးအထောက်အထား

၃။ အဆိုပြုချက်နှင့်အတူ ပူးတွဲပါ လယ်ယာမြေငှားရမ်း အသုံးပြုခွင့်စာချုပ် နှင့် မြေငှားရမ်းစာချုပ်များကို ဥပဒေကြောင်းအရ အောက်ပါအတိုင်း သုံးသပ် အကြံပြုအပ် ပါ သည် -

(က) လယ်ယာမြေငှားရမ်း အသုံးပြုခွင့်စာချုပ်မှာ လယ်ယာမြေငှားရမ်းသူ Mr. Zhang Guilin သည် လယ်ယာမြေလုပ်ကိုင်သူ (၁၀) ဦးထံမှ လက်ရှိလုပ်ကိုင်နေသော လယ်ယာမြေဧရိယာစုစုပေါင်း ၇၂.၈၅ ဧက အား မြေပိုင်ရှင်များကိုယ်စား ဦးမြစိုး နှင့် ငှားရမ်း၍ ချုပ်ဆိုသော စာချုပ်ဖြစ်သည်ကို တွေ့ရှိရသည့်အတွက် မြန်မာနိုင်ငံတွင် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ တည်ထောင်မည့် Asia Agriculture Co.,Ltd. နှင့် ချုပ်ဆိုသင့်ပါကြောင်း၊ ဦးမြစိုး မှာ လယ်ယာမြေလုပ်ကိုင်သူ (၁၀) ဦး ၏ အမည်စာရင်းတွင် ပါဝင်မှုရှိသည်ကို မတွေ့ရှိရပါကြောင်း၊

(ခ) မြေငှားရမ်းစာချုပ်ကို မြေပိုင်ရှင် ဦးတင်အေး ပိုင်ဆိုင်သည့် အမှတ် ၄၇/၁၆၊ ချောင်းတွင်းလမ်း၊ ဖျာပုံမြို့ရှိ စက်ရုံ နှင့် မြေငှားရမ်းသူ Mr. Zhang Guilin တို့ ချုပ်ဆိုထားသော စာချုပ် ဖြစ်ကြောင်း တွေ့ရှိရသည့်အတွက် မြန်မာနိုင်ငံတွင်

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ တည်ထောင်မည့် Asia Agriculture Co.,Ltd. နှင့် ချုပ်ဆိုသင့်ပါကြောင်း၊

(ဂ) မြေပိုင်ဆိုင်မှုအထောက်အထားများကို အဆိုပြုချက်နှင့်အတူ ပူးတွဲ တင်ပြသင့်ပါကြောင်း၊

(ဃ) လယ်ယာမြေငှားရမ်း အသုံးပြုခွင့်စာချုပ် နှင့် မြေငှားရမ်းစာချုပ်များကို စာချုပ်အင်္ဂါရပ်နှင့် ကိုက်ညီအောင်ချုပ်ဆိုသင့်ပါကြောင်း၊

(င) နိုင်ငံခြားသားရင်းနှီးမြှုပ်နှံသူသည် မြန်မာနိုင်ငံသားပုဂ္ဂလိကထံမှ မြေငှားရမ်းဆောင်ရွက်မည်ဖြစ်၍ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်ပြည်ထောင်စုအစိုးရအဖွဲ့မှထုတ်ပြန်ထားသောမြေပိုင်းဆိုင်ရာ အမိန့်ကြော်ငြာစာအမှတ် ၃၉/၂၀၁၁ နှင့်အညီ လိုက်နာဆောင်ရွက်ရန်လိုအပ်ပါကြောင်း သုံးသပ်အကြံပြုအပ်ပါသည်။

၄။ ဤအကြံပြုသုံးသပ်ချက်ကို လိုအပ်သလို ဆက်လက် ဆောင်ရွက်နိုင်ပါရန် ပေးပို့အပ်ပါသည်။

(မြစန္ဒာ)

ညွှန်ကြားရေးမှူး(ရင်းနှီး ၁)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန

စာအမှတ်၊၁၁/အထွေထွေ( ၇၆၉ /၂၀၁၂)
ရက်စွဲ၊ ၂၀၁၂ခုနှစ်၊ နိုဝင်ဘာလ ၂၁ ရက်

အကြောင်းအရာ။ Asia Agriculture Co., Ltd မှ ရာနှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ဆန်စပါးစိုက်ပျိုးလုပ်ကိုင်ရန် အဆိုပြုတင်ပြလာခြင်းအပေါ် မူဝါဒ သဘောထား တောင်းခံလာခြင်းကိစ္စ။

ရည်ညွှန်းချက်။ အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန၊ ဝန်ကြီးရုံး၏ (၅.၁၁.၂၀၁၂) ရက်စွဲပါစာအမှတ်၊ အမစ-၁/၃/၄၃(၄၉၇၂)။

၁။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာနမှ ရည်ညွှန်းပါစာဖြင့် Asia Agriculture Co., Ltd မှ ရာနှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ဆန်စပါး စိုက်ပျိုးလုပ်ကိုင်ရန် အဆိုပြုတင်ပြလာခြင်းကိစ္စနှင့် ပတ်သက်၍ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား တောင်းခံလာပါသည်။

၂။ ယင်းကိစ္စနှင့်ပတ်သက်၍ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာန အနေနှင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၁၄) ပုဒ်မ(၃၅) တွင် "ရင်းနှီးမြှုပ်နှံသူသည် နိုင်ငံသားများ လုပ်ကိုင်ခွင့် ရရှိထားသည့် မြေယာများ၌ စိုက်ပျိုးရေးလုပ်ငန်းများနှင့် မွေးမြူရေးလုပ်ငန်းများ ကန်ထရိုက်စနစ်ဖြင့်ဆောင်ရွက်ရာတွင် နိုင်ငံသားရင်းနှီးမြှုပ်နှံသူနှင့် ဖက်စပ်စနစ်ဖြင့်သာဆောင်ရွက်ခွင့်ရှိသည်" ဟုဖော်ပြထားရာ ယခုအဆိုပြုလုပ်ငန်း ဆောင်ရွက်မှုသည် ရာနှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုပုံစံဖြင့် ဆောင်ရွက်လိုခြင်းဖြစ်သဖြင့် စဉ်းစားဆောင်ရွက်သင့်ပါကြောင်းနှင့်အဆိုပါကုမ္ပဏီအနေဖြင့်လယ်ယာကဏ္ဍဆိုင်ရာ ရင်းနှီးမြှုပ်နှံမည့်လုပ်ငန်းများ အဓိကရည်မှန်းထားရှိခြင်းအပေါ်၊ လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်း ဝန်ကြီးဌာနသို့ လာရောက် တွေ့ဆုံရှင်းလင်းတင်ပြခြင်း၊ ညှိနှိုင်းခြင်းများကို ဦးစွာဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ပါကြောင်း ပြန်ကြားအပ်ပါသည်။

ဒုတိယဝန်ကြီး(ကိုယ်စား)
(သက်နိုင်ဦး၊ ရုံးအဖွဲ့မှူး)

ရုံးအဖွဲ့မှူး၊ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
မိတ္တူကို - ညွှန်ကြားရေးမှူးချုပ်၊ နိုင်ငံတော်သမ္မတရုံး။
- ရုံးလက်ခံ။
- မျှောစာတွဲ။

M.1531
5/10

DG 3/4170

| ကြေးနန်းလိပ်စာ - "စိစစ်တိုး" |
|---|
| တယ်လီဖုန်းအမှတ် -၄၀၆၀၆၅ |
| -၄၀၆၀၆၆ |
| -၄၀၆၀၆၇ |
| -၄၀၆၀၆၈ |
| -၄၀၆၀၆၉ |
| -၄၀၆၀၇၀ |
| -၄၀၆၀၇၁ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန
**စီမံကိန်းစိစစ်ရေးနှင့်တိုးတက်မှုအစီရင်ခံရေးဦးစီးဌာန**
ရုံးအမှတ်၃၂ ၊ နေပြည်တော်။

စာအမှတ်၊ စစတ-ဦး / ၇၂၁( ၃၄၇၇ /၂၀၁၂)။
ရက်စွဲ၊၂၀၁၂ခုနှစ်၊အောက်တိုဘာလ( ၂ ) ရက်။

**အမှာစာ**

အကြောင်းအရာ။ ။ **ရာနူန်းပြည့်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Asia Agricultural Co.,Ltd. မှ မြန်မာနိုင်ငံတွင် ဆန်စပါးစိုက်ပျိုးခြင်း၊ ဆန်စက်တည်ထောင် လုပ်ကိုင်ခြင်း ၊ လယ်ယာသီးနှံများအား စိုက်ပျိုးခြင်း၊ တာရှည်ခံအောင် ပြုလုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စ။**

ရည်ညွှန်းချက်။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ ရင်းနှီးမြှုပ်နှံမှု သတင်းအချက်အလက် စုဆောင်း ရှာဖွေမြှင့်တင်ရေးအဖွဲ့၏ (၂၅- ၉ - ၂၀၁၂) ရက်စွဲပါစာအမှတ်၊ ရက - ၆(ခ)/ န - ၇၁၇ /၂၀၁၂( ၁၁၁၁၂)။

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်စပ်လျဉ်း၍ Agricultural Co.,Ltd. မှ မြန်မာနိုင်ငံတွင် ဆန်စပါးစိုက်ပျိုးခြင်း၊ ဆန်စက်တည်ထောင် လုပ်ကိုင်ခြင်း ၊ လယ်ယာသီးနှံများအား စိုက်ပျိုးခြင်း၊ တာရှည်ခံအောင် ပြုလုပ်ခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စရပ် အပေါ် စီးပွားရေး တွက်ချက်မှုဆိုင်ရာ ကိစ္စရပ်များအား စိစစ်ပြီး တွေ့ရှိချက်များ ပြန်ကြား ပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပြုလွှာပါ ငွေသားစီးဆင်းမှု စာရင်းများကို အခြေခံ၍ စိစစ်တွက်ချက်ရာ အောက်ပါအတိုင်း တွေ့ရှိရပါကြောင်း ပြန်ကြားအပ်ပါသည် -

(က) ငွေသားစီးဆင်းမှုစာရင်း ( Cash Flow) မှ အချက်အလက်များဖြင့် တွက်ချက်ရာ ရင်းနှီးမြှုပ်နှံမှုအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၃ % ရရှိပြီး ကုမ္ပဏီမှ တွက်ချက် တင်ပြသည့်(IRR) နှင့် ကိုက်ညီမှု ရှိသည်ကို တွေ့ရှိ ရပါကြောင်း၊

(ခ) တွက်ချက်ရရှိသော အရင်းကြေကာလမှာ ၁၇ နှစ် နှင့် ၃ လ ဖြစ်ပြီး အဆိုပြုလွှာပါ အရင်းကြေကာလနှင့် ကိုက်ညီမှုရှိသည်ကို တွေ့ရှိရပါကြောင်း၊

E:\MIC\Asia Agricultural.docx\(2010-2011)4th Quarter\Page 1 of 2

(ဂ) Agricultural Co.,Ltd. သည် ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်၊ ရဲမွန်ကျေးရွာ အုပ်စုတွင် ဆန်စပါးစိုက်ပျိုးခြင်း၊ လယ်ယာသီးနှံများအား စိုက်ပျိုး၍ တာရှည်ခံအောင် ပြုလုပ်မည်ဖြစ်ပြီး နိုင်ငံတကာ အဆင့်မီ လယ်ယာထွက်ကုန်များ အား ပြည်တွင်းပြည်ပသို့ ဖြန့်ဖြူး တင်ပို့ ရောင်းချသွားမည် ဖြစ်ကြောင်း၊ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု အမေရိကန်ဒေါ်လာ (၂.၆) သန်းဖြင့် ဆောင်ရွက်သွားမည် ဖြစ်ကြောင်းနှင့် နိုင်ငံခြားသား ရာနှုန်းပြည့်(၁၀၀%) ပိုင်ဆိုင်သော ကုမ္ပဏီဖြစ်ကြောင်း၊

(ဃ) အဆိုပါ ရင်းနှီးမြှုပ်နှံမှုကို ဆောင်ရွက်ခြင်းဖြင့် ပြည်ပမှ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုများ ဝင်ရောက်နိုင်ခြင်း အဆင့်မီလယ်ယာသီးနှံများ စိုက်ပျိုးထုတ်လုပ်၍ ပြည်တွင်းနှင့် နိုင်ငံတကာ ဈေးကွက်များသို့ ထိုးဖောက်ဝင်ရောက်နိုင်ခြင်း၊ ထုတ်လုပ်ရာ၌ ခေတ်မီ နည်းစနစ်များရရှိနိုင်ခြင်းနှင့် တောင်သူများသို့ နည်းပညာများနှင့်မျိုးကောင်းမျိုးသန့်များ ဖြန့်ဖြူးနိုင်ခြင်း၊ တာရှည်ခံ နည်းစနစ် များ အသုံးပြုမည် ဖြစ်၍ လေလွင့်မှုကို လျှော့ချနိုင်ခြင်း စသည့် အကျိုးကျေးဇူးများ ရရှိနိုင်သဖြင့် ရင်းနှီးမြှုပ်နှံဆောင်ရွက်သင့်ကြောင်း ။

(signature) ၃.၁၀.၂၀၁၁

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(ခင်နွဲ့ရီ ၊ ဒုတိယညွှန်ကြားရေးမှူး)

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊

မိတ္တူကို- ဝန်ကြီးရုံး၊ အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန။

M.904

သို့ ရက်စွဲ။ ။ (၂၅) ရက်၊ ဇန်နဝါရီလ၊ ၂၀၁၃ ခုနှစ်။

ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
နေပြည်တော်

အကြောင်းအရာ။ ASIA Agriculture Co.,Ltd. ဆောင်ရွက်လျှက်ရှိသော လုပ်ငန်းအစီအစဉ်များတင်ပြခြင်းကိစ္စ

ASIA AGRICULTURE Co.,Ltd.သည် မြန်မာနိုင်ငံတွင် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ဆန်စပါးစိုက်ပျိုးခြင်းနှင့် လယ်ယာသီးနှံများအား စိုက်ပျိုးခြင်း၊ တာရှည်ခံအောင်ပြုလုပ်ခြင်း၊ တောင်သူလယ်သမားများအား စီးပွားဖြစ်ထွန်းအောင် ပညာပေး လုပ်ငန်းများပြုလုပ်ပေးခြင်း၊ အလုပ်အကိုင်အခွင့်အလမ်းများ တိုးပွားအောင်ပြုလုပ်ပေးခြင်း အစရှိသည်များကို လုပ်ကိုင်ဆောင်ရွက်နိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက် လျှောက်ထားခြင်းနှင့် ပတ်သက်၍ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီး ဌာနမှ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအသစ်အရ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့်သာ ဆောင်ရွက်ရမည်ဖြစ်ကြောင်းနှင့် လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီး ဌာနသို့ လာရောက်ဆက်သွယ်ရန် သဘောထားအရ ဥပဒေနှင့် အညီ ဖက်စပ်လုပ်ကိုင်ရန် ဆောင်ရွက်နေဆဲဖြစ်ပါကြောင်းနှင့် အဆိုပြုချက်ပြီးစီးပါက လာရောက်တင်ပြမည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

Mr.Zhang Guilin
ASIA AGRICULTURE Co.,Ltd.

Permit (New) .doc

